ကုမ္ပဏီအမည် - U Energy Thaketa Power Co., Ltd.

လုပ်ငန်း - BOT စနစ်ဖြင့် ၁၀၆ မဂ္ဂါဝပ် သဘာဝဓါတ်ငွေ့နှင့်စွန့်ပစ်အပူသုံးဓါတ်အားပေးစက်ရုံ တည် ဆောက်ပြီး လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၀-၁၁-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၄-၁၂-၂၀၁၅ | ၁၅-၁-၂၀၁၆ | ၄၂ ရက် |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၄-၁၂-၂၀၁၅ | ၁၄-၁၂-၂၀၁၅ | ၁၀ ရက် |
| ၃ | PAT (၄၅/၂၀၁၅) သို့ တင်ပြခြင်း | ၇-၁၂-၂၀၁၅ | | |
| ၄ | PAT အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် အကြောင်းကြားခြင်း ပြန်ကြားခြင်း | ၁၂-၁-၂၀၁၆ | | |
| ၅ | အဆိုပြုချက်အား ရက်ပေါင်း ၉၀ ပြည့်သဖြင့် ပြန်လည်ပေးပို့ခြင်း | ၂၉-၂-၂၀၁၆ | | |
| ၆ | လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ PAT အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ အဆိုပြုချက်အား ပြန်လည်တင်ပြလာခြင်း | ၅-၇-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ PATအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ အဆိုပြုချက်အား ပြန်လည်တင်ပြလာခြင်း | ၂၆-၇-၂၀၁၆ | | |
| ၈ | မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ သဘောထားမှတ်ချက်တောင်းခံခြင်း | ၂၈-၇-၂၀၁၆ | ၂၃-၈-၂၀၁၆ | ၂၆ ရက် |
| ၉ | ကုမ္ပဏီမှ အဆိုပြုလွှာပေးပို့ခြင်း | ၁-၉-၂၀၁၆ | | |
| ၁၀ | **စုစုပေါင်းကြာမြင့်ရက်** | **၄၃ ရက်** | | |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၄

PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်း အမည် | အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | အလံ အမှတ် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | U Energy Thaketa Power Co., Ltd. | BOT စနစ်ဖြင့် ၁၀၆ မဂ္ဂါဝပ် သဘာဝဓါတ်ငွေ့နှင့်စွန့်ပစ်အပူသုံး ဓါတ်အားပေး စက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း | ၄၅/၂၀၁၅ (၇-၁၂-၂၀၁၅) | -Phase II အတွက် Business Planကို ရေးဆွဲတင်ပြထားသဖြင့် ယခုဦးစားပေး ဆောင်ရွက်မည့် Phase I ၏ Business Plan ကိုတင်ပြရန်။ | ပြင်ဆင်ပြီး | က |
| | | | | -မြေငှားစာချုပ် သီးသန့် ချုပ်ဆိုခြင်းမရှိဘဲ Power Purchase Agreement ၏ Schedule 24 တွင် ထည့်သွင်းချုပ်ဆိုထားသည့်အတွက် မြေငှားစာချုပ် သီးသန့် ချုပ်ဆိုပေးရန် နှင့် စာချုပ်(မူကြမ်း)ပေါ်တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် တောင်းခံရန်။ | ပြင်ဆင်ပြီး | ခ |
| | | | | -မြေငှားစာချုပ်၏နောက်ဆက်တွဲ အဖြစ်မြေပုံပိုင်းခြားခြင်း အထောက်အထားတင်ပြပေးရန် | ပြင်ဆင်ပြီး | ဂ |
| | | | | -အဆိုပြုလုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြပေးရန်။ | ပြင်ဆင်ပြီး | ဃ |
| | | | | -ဝန်ထမ်းအင်အားစာရင်း တင်ပြမှုတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ (၂၄)အရ လိုက်နာရေးဆွဲ တင်ပြရန်။ | ပြင်ဆင်ပြီး | င |
| | | | | -လုပ်ငန်းဆောင်ရွက်မည့်မြေဧရိယာကို တိကျစွာဖော်ပြပေးရန်။ | ပြင်ဆင်ပြီး | စ |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် U Energy Thaketa Power Co., Ltd. မှ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအား စီမံရေးဦးစီးဌာနပိုင် သာကေတ ဓာတ်အားပေးစက်ရုံဝင်းအတွင်းတွင် BOT စနစ်ဖြင့် သဘာဝဓါတ်ငွေ့နှင့် စွန့်ပစ်အပူသုံး ဓါတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Mr. Guan Yukun<br>UREC Energy International Co., Ltd.<br>(တရုတ်ပြည်သူ့သမ္မတနိုင်ငံ) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- UREC Energy International Co., Ltd. (UREC-EI) ၉၇%<br>(တရုတ်ပြည်သူ့သမ္မတနိုင်ငံ)<br>- လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန ၃% |
| ၃။ | လုပ်ငန်းအမျိုးအစား | - သဘာဝဓါတ်ငွေ့နှင့် စွန့်ပစ်အပူသုံး ဓါတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄။ | တည်နေရာ | - သာကေတဓါတ်အားပေးစက်ရုံဝင်းအတွင်း၊ သာကေတမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - ၄၀,၉၇၅.၃၅၃ စတုရန်းမီတာ |
| | မြေပိုင်ရှင် | - လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကိုယ်ပိုင်ငွေ US$ ၃၆.၃၉၂ သန်း(၂၉%) နှင့် ချေးငွေ US$ ၈၉.၂၈ သန်း(၇၁%)အပါအဝင် စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ US$ ၁၂၅.၆၇၂ သန်း |

| စဉ် | အကြောင်းအရာ | ရှယ်ယာ | ချေးငွေ | စုစုပေါင်း |
|---|---|---|---|---|
| ၁ | ငွေသား | ၀.၀၄၅ | ၀.၁၀၅ | ၀.၁၅၀ |
| ၂ | စက်ပစ္စည်း (Machineries) | ၂၁.၈၄၀ | ၅၀.၉၅၉ | ၇၂.၇၉၉ |
| ၃ | အဆောက်အဦကုန်ကျစရိတ် (Construction Cost) | ၁၂.၈၆၉ | ၃၀.၀၂၈ | ၄၂.၈၉၇ |
| ၄ | စက်မှုဒီဇိုင်း (Engineering Design) | ၁.၆၃၈ | ၃.၈၂၀ | ၅.၄၅၉ |
| ၅ | ဆောက်လုပ်မှုကာလအတွင်းအတိုးနှုန်း (Interests during construction) | - | ၄.၃၆၇ | ၄.၃၆၇ |
| | စုစုပေါင်း | ၃၆.၃၉၂ | ၈၉.၂၈၀ | ၁၂၅.၆၇၂ |

| | | | | |
|---|---|---|---|---|
| ၆။ | ဝင်ငွေရရှိမှုအခြေအနေ (၆နှစ်မြောက်) | ထုတ်လုပ်မည့် လျှပ်စစ်ဓာတ်အား (MWh/year) | ဈေးနှုန်း US$/MWh | ရရှိမည့်ဝင်ငွေ US$ (Million) |
| | | ၃၁၇,၃၅၃ | ၀. ၀၇၄ | ၂၄.၇၂ |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% | | |
| ၈။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် | | |
| ၉။ | တည်ဆောက်ရေးကာလ | - ၂ နှစ် | | |
| ၁၀။ | ဝန်ထမ်းအင်အား | - ၆၀ ဦး | | |
| | | - ၂၅ ဦး(ပြည်တွင်း) | အနိမ့်ဆုံးလစာ- US$ ၁၇၀<br>အမြင့်ဆုံးလစာ- US$ ၄၀၀ | |
| | | - ၃၅ ဦး (ပြည်ပ) | အနိမ့်ဆုံးလစာ- US$ ၁,၃၇၅<br>အမြင့်ဆုံးလစာ- US$ ၁,၉၀၀ | |
| ၁၁။ | (၆)နှစ်မြောက်တွင် | | | |
| | ကုမ္ပဏီ၏ဝင်ငွေ | - US$ ၂၄.၇၂ သန်း | | |
| | အသုံးစရိတ် | - US$ ၂၁.၄၄ သန်း | | |
| | အသားတင်အမြတ် | - US$ ၂.၈၈ သန်း | | |
| ၁၂။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (၆)နှစ်မြောက် | | | |
| | ဝင်ငွေခွန် | - US$ ၀.၉၆ သန်း | | |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၁.၂၂ သန်း | | |
| ၁၃။ | အရင်းကြေကာလ | - ၈ နှစ် ၁၀ လ | | |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၀ % | | |

- ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းစာရင်းအား ပူးတွဲဖြင့် တင်ပြထားပါသည်။

U Energy Thaketa Power Co., Ltd
List of Machinery Equipment To be imported
Expressed in US$

Annex - 2

| No. | Description | Type and Specification | Units | Quantity | Unit Price |
|---|---|---|---|---|---|
| I | Thermal System | | SET | 1 | 54.348 |
| 1 | Gas Turbine and Auxiliary equipment | | SET | 1 | 24.159 |
| 2 | HRSG AND ACCESSORY | | SET | 1 | 5.947 |
| 3 | ST, STG and Auxiliary equipment | | SET | 1 | 7.836 |
| 4 | Natural gas station | 27500Nm3/h | SET | 1 | 6.297 |
| 5 | Maintenance and hoisting device | | SET | 1 | 0.77 |
| 6 | Compressed air system | | SET | 1 | 1.959 |
| 7 | Nitrogen filling protection | | SET | 1 | 0.7 |
| 8 | Material | | LOT | 1 | 3.148 |
| 9 | Others | | SET | 1 | 0.702 |
| 10 | maintace parts | | LOT | 1 | 2.832 |
| II | Primary Electrial Equipment | | SET | 1 | 7.696 |
| 1 | STG system | | SET | 1 | 0.245 |
| 2 | Gas turbine generator outgoing system | | SET | 1 | 0.385 |
| 3 | Phase bus accessory | | lot | 1 | 0.105 |
| 4 | OUTDOOR TRANSFORMER | | SET | 1 | 2.239 |
| 5 | 66kV SWITCHGEAR | DOUBLE BUS CONNECTION TWO INCOMING,THREE OUT GOING | SET | 1 | 0.84 |
| 6 | EMERGENCY DIESEL GENERATOR, | 800kW, 400V | SET | 1 | 0.56 |
| 7 | ELECTRICAL AUXILIARY SYSTEM | | SET | 1 | 0.91 |
| 8 | Lighting system | | SET | 1 | 0.07 |
| 9 | SAFETY SLIDE CONTACTING WIRE(S.C.W.) | | SET | 1 | 0.035 |
| 10 | Material for grounding system | | SET | 1 | 0.07 |
| 11 | Cable | | SET | 1 | 1.469 |
| 12 | Cable accessories | | SET | 1 | 0.56 |
| 13 | Others | | LOT | 1 | 0.208 |
| III | Secondary Electrical Equipment | | SET | 1 | 1.889 |
| 1 | DC SYSTEM FOR UNIT | | SET | 1 | 0.21 |
| 2 | UPS SYSTEM | | SET | 1 | 0.168 |
| 3 | GENERATOR EXCITATION | | SET | 1 | 0.028 |
| 3.1 | GENERATOR EXCITATION | | SET | 1 | 0.266 |
| 4 | CONTROL AND PROTECTION SYSTEM FOR UNIT | | SET | 1 | 0.42 |
| 5 | FIRE ALARM SYSTEM | CONTAINS: CONTROL PANEL, DETECTORS, I/O MODULE. | SET | 1 | 0.105 |
| 6 | OTHER EQUIPMENT | | SET | 1 | 0.126 |
| 7 | 66kV SWITCHYARD CONTROL AND PROTECTION SYSTEM | | SET | 1 | 0.525 |
| 8 | Others | | LOT | 1 | 0.043 |
| IV | Instrument & Control System | | SET | 1 | 2.379 |
| 1 | INTEGRATED DEVICE | | SET | 1 | 0.805 |
| 2 | CONTROL PANEL, CABINET | (WXDXH) | SET | 1 | 0.665 |
| 3 | LOCAL EQUIPMENT | | SET | 1 | 0.315 |
| 4 | INSTALL MATERIAL | | LOT | 1 | 0.315 |
| 5 | AUXILIARY SYSTEM | | SET | 1 | 0.245 |
| 6 | Others | | LOT | 1 | 0.036 |
| V | WATER SUPPLY AND FIRE FIGHTING SYSTEM | | SET | 1 | 3.708 |
| 1 | C.W. SYSTEM | | SET | 1 | 1.049 |
| 2 | RWA WATER PRE-TREATMENT | | SET | 1 | 0.805 |
| 3 | SERVICE WATER SYSTEM | | SET | 1 | 0.175 |
| 4 | THE POTABLE WATER AND SANITARY WASTE WATER | | SET | 1 | 0.28 |
| 5 | RAIN WATER SYSTEM | | SET | 1 | 0.245 |
| 6 | Oiy waste water treat system | | SET | 1 | 0.105 |
| 7 | FIRE FIGHTING | | SET | 1 | 0.98 |
| 8 | Others | | SET | 1 | 0.07 |

U Energy Thaketa Power Co., Ltd
List of Machinery Equipment To be imported
Expressed in US$

Annex - 2

| No. | Description | Type and Specification | Units | Quantity | Unit Price |
|---|---|---|---|---|---|
| VI | Chemical water treatment system | | SET | 1 | 1.399 |
| 1 | Demineralization system | | SET | 1 | 0.455 |
| 2 | Chemical dosing system | | SET | 1 | 0.245 |
| 3 | Water and steam sampling system | | SET | 1 | 0.14 |
| 4 | LAB | | SET | 1 | 0.315 |
| 5 | PLANT AREA PIPE | | SET | 1 | 0.105 |
| 6 | Circulating cooling water (CCW) treatment system | | SET | 1 | 0.105 |
| 7 | Others | | SET | 1 | 0.035 |
| VII | Heating, Ventilating and Air | | SET | 1 | 0.539 |
| Ⅷ | COMMUNICATION SYSTEM | | SET | 1 | 0.84 |
| | | | | Total: | 72.799 |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | U Energy Thaketa Power Co.,Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | BOT စနစ်ဖြင့် ၁၀၆ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့နှင့် စွန့်ပစ်အပူသုံးဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓါတ်အား ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး သာကေတမြို့နယ်၊ သာကေတဓာတ်အားပေးစက်ရုံဝင်းအတွင်းရှိ မြေ ၄၀,၉၇၅.၃၅၃ စတုရန်းမီတာ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၁၂၅.၆၇၂ သန်း |
| ဝန်ဆောင်မှုပေးမည့်စနစ် | - | ပြည်တွင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ၃၀ နှစ် |
| အရင်းကြေကာလ | - | ၈ နှစ် ၁၀ လ |
| IRR | - | ၁၀ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၇ သန်း |
| ၃ | သွင်းကုန်ခွန် ကင်းလွတ်ခွင့် | ကျပ် ၈၇၄.၀၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၂,၇၂၄.၃၀ သန်း | ကျပ် ၂၀,၆၃၆.၄၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၇,၃၅၁.၂၀ သန်း | ကျပ် ၁၄,၅၄၁.၆၀ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၂,၂၃၂.၀၀ သန်း |
| ၇ | မြေငှားရမ်းခ | | ကျပ် ၄၉၁.၇၁ သန်း |
| ၈ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၂,၅၃၅.၄၈ သန်း<br>တစ်နှစ်ဝင်ငွေ ကျပ် ၄.၈ သန်း (ကျပ်လေးဆယ့် ရှစ်သိန်း) ကျော်ပါကအခွန်ပေးရမည့် ဝန်ထမ်း ၃၈ ဦး |
| ၉ | CSR (၁%)<br>အလုပ်အကိုင် အခွင့်အလမ်း | | ကျပ် ၃၄၆.၈ သန်း<br>အမြဲတမ်း ပြည်တွင်း ၂၅ ဦး<br>ပြည်တွင်းလုပ်သား(၂၅)ဦး အလုပ် အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုကိုအထောက် အကူပြုစေပါသည်။<br>အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | | ကျပ် ၁၀,၉၅၂.၅၀ သန်း | ကျပ် ၄၀,၇၈၅.၁၆ သန်း |
| | | ၁ : ၄ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(လ)/န-၀၀၂/၂၀၁၆ (၃၄၀)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၄ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် U Energy Thaketa Power Co.,Ltd. မှ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနပိုင် သာကေတဓာတ်အားပေးစက်ရုံဝင်းအတွင်း BOT စနစ်ဖြင့် ၁၀၆ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့နှင့် စွန့်ပစ်အပူသုံးဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနမှ ၃% နှင့် တရုတ် ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော UREC Energy International Limited (UREC-EI) မှ ၉၇% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် U Energy Thaketa Power Co., Ltd. ဖွဲ့စည်းတည်ထောင်ပြီး လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီး ဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး သာကေတမြို့နယ်၊ သာကေတဓာတ်အားပေးစက်ရုံဝင်းအတွင်း ရှိမြေ ၄၀,၉၇၅.၃၅၃ စတုရန်းမီတာတွင် BOT စနစ်ဖြင့် ၁၀၆ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့နှင့် စွန့်ပစ်အပူသုံး ဓာတ်အားပေးစက်ရုံတည်ဆောက်ပြီး လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄၅/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနနှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ UREC Energy International Limited (UREC-EI) တို့သည် ရန်ကုန်တိုင်းဒေသကြီး၊ သာကေတဓာတ်အားပေး စက်ရုံဝင်းအတွင်းတွင် သဘာဝဓာတ်ငွေ့နှင့်စွန့်ပစ်အပူသုံး ဓာတ်အားပေးစက်ရုံစီမံကိန်းအား JV/ BOT စနစ်အခြေခံဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အခမဲ့ရှယ်ယာ ၃% ပါဝင်သော ဖက်စပ် ကုမ္ပဏီအား ထူထောင်၍ အကျိုးတူပူးပေါင်းဆောင်ရွက်ရန်အတွက် ဖက်စပ်သဘောတူ စာချုပ်ကို ပြည်ထောင်စုအစိုးရအဖွဲ့၏ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၀ ရက်နေ့တွင် ကျင်းပသော အစည်းအဝေးအမှတ်စဉ် ၁၈/၂၀၁၅ မှ သဘောတူ ခွင့်ပြုချက်အရ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၂၂ ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ပါသည်။

၃။ အဆိုပြုချက်နှင့်အတူ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် အဆိုပြုကုမ္ပဏီတို့ချုပ်ဆိုမည့် သဘာဝဓာတ်ငွေ့နှင့် စွန့်ပစ်အပူသုံးဓာတ်အားပေး စက်ရုံစီမံကိန်း အတွက် လုပ်ငန်းသဘောတူစာချုပ်၊ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် U-Energy Myanmar Co., Ltd. တို့ချုပ်ဆိုသည့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် ပူးတွဲထားသော လျှပ်စစ်ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement -PPA)နှင့်မြေငှားစာချုပ်၊ ချေးငွေအတွက် Facility Agreement နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် (Loan Repayment Schedule) တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်မှု ကာလမှာ ၂ နှစ်ဖြစ်ပါသည်။

၅။ မြေငှားသက်တမ်းမှာ လျှပ်စစ်ဓာတ်အားဝယ်ယူရေး စာချုပ်ပါအတိုင်း စီးပွားဖြစ်စတင်သော နေ့မှစ၍ နှစ် ၃၀ ဖြစ်ပါသည်။ မြေငှားရမ်းခန့်မှန်းထားမှာ တစ်စတုရန်းမီတာလျှင် အမေရိကန် ၁ ဒေါ်လာနှုန်းဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၄၀,၉၇၆ ဖြစ်ပါသည်။

၆။ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနနှင့် UREC Energy International Limited (UREC-EI) တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုထားသည့် သဘာဝဓာတ်ငွေ့နှင့် စွန့်ပစ်အပူသုံးဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် လုပ်ငန်းသဘောတူစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ငှားရမ်းမည့် သက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးပြီး တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း ပထမအဆင့်၏ စီးပွားဖြစ်စတင်သည့်နေ့မှစတင်၍ ၃၀ နှစ်ဖြစ်ပါသည်။ စာချုပ်သက်တမ်း ကုန်ဆုံးချိန်တွင် လုပ်ငန်းပထမအဆင့်နှင့် ဒုတိယအဆင့်ကို လျှပ်စစ်စွမ်းအား စီမံရေးဦးစီးဌာနသို့ ပြန်လည်လွှဲပြောင်းပေးမည်ဖြစ်သည်။ **အပိုဒ်-၃(၂)**

(ခ) Royalty Payment အဖြစ် လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနမှ ရင်းနှီးမြှုပ်နှံမှုပမာဏတွင် အခမဲ့ရှယ်ယာ ၃% ထည့်ဝင်ခွင့်ရရှိမည်ဖြစ်ပါသည်။ **အပိုဒ်-၆(၁)**

(ဂ) အမြတ်ရရှိမှုအပေါ် စာချုပ်ပါ နှစ်ဦးနှစ်ဖက် အကျိုးခံစားခွင့်တန်းတူရရှိပြီး၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနမှ အစုပေါ်အမြတ်ခွဲဝေမှုကို စီးပွားဖြစ်စတင်ပြီး (၃)နှစ် ပြည့်ပြီးနောက် ရရှိမည်ဖြစ်သည်။ **အပိုဒ်-၁၉(၁)**

၇။ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် U-Energy Thaketa Power Company Limited တို့ ချုပ်ဆိုထားမည့် Power Purchase Agreement(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စီမံကိန်းမှ ထုတ်လုပ်သော လျှပ်စစ်ဓာတ်အားကို မြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်းသို့ ရောင်းချရမည်ဖြစ်ပါသည်။ **အပိုဒ်-၁(၁)**

(ခ) မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ဇော်တိကာသဘာဝဓါတ်ငွေ့စီမံကိန်း သို့မဟုတ် အလားတူစီမံကိန်းမှ လောင်စာထွက်ရှိမှုအပေါ် မူတည်၍ တစ်ရက်လျှင် ၂၀ mmcf ထောက်ပံ့ပေးမည်ဖြစ်ပါသည်။ **[အပိုဒ်-၇(ဝ)(ခ)]**

(ဂ) စာချုပ်သက်တမ်းကာလသည် အဆိုပြုလုပ်ငန်းပထမအဆင့်၏ ထုတ်လုပ်မှုစတင်သော နေ့မှ ၃၀ နှစ်အထိ ဖြစ်ပါသည်။ **အပိုဒ်-၉(၁)**

(ဃ) စာချုပ်သက်တမ်းတိုးမြှင့်ခြင်းအတွက် နှစ်ဦးနှစ်ဖက် သဘောတူညီချက်အရ တိုးမြှင့်နိုင်ပါသည်။ **အပိုဒ်-၉(၃)**

(င) စာချုပ်သက်တမ်းကုန်ဆုံးချိန်တွင် ကုမ္ပဏီမှ လုပ်ပိုင်ခွင့်နှင့် ပိုင်ဆိုင်မှုအားလုံးကို မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းသို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။ **အပိုဒ်-၁၃(၃)**

၈။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၁၂၅.၆၇၂ သန်းဖြစ်ပြီး ၎င်းတွင် ကိုယ်ပိုင်ငွေ US$ ၃၆.၃၉၂ သန်း(၂၉%) နှင့်ချေးငွေ US$ ၈၉.၂၈ သန်း(၇၁%) အပါအဝင်ဖြစ်ပါသည်။ US$ ၇၂.၇၉၉ သန်းဖိုးကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှု အမျိုးအစားမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(US$/သန်း)

| စဥ် | အကြောင်းအရာ | ရှယ်ယာ | ချေးငွေ | စုစုပေါင်း |
|---|---|---|---|---|
| (က) | ငွေသား | ၀.၀၄၅ | ၀.၁၀၅ | ၀.၁၅၀ |
| (ခ) | စက်ပစ္စည်း(Machineries) | ၂၁.၈၄၀ | ၅၀.၉၅၉ | ၇၂.၇၉၉ |
| (ဂ) | အဆောက်အဦကုန်ကျစရိတ် (Construction Cost) | ၁၂.၈၆၉ | ၃၀.၀၂၈ | ၄၂.၈၉၇ |
| (ဃ) | စက်မှုဒီဇိုင်း (Engineering Design) | ၁.၆၃၈ | ၃.၈၂၁ | ၅.၄၅၉ |
| (င) | ဆောက်လုပ်မှုကာလအတွင်းအတိုးနှုန်း (Interests During construction) | - | ၄.၃၆၇ | ၄.၃၆၇ |
| | **စုစုပေါင်း** | **၃၆.၃၉၂** | **၈၉.၂၈၀** | **၁၂၅.၆၇၂** |

၉။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၂၅)ဦးနှင့် ပြည်ပဝန်ထမ်း (၃၅)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၇၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၄၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၁,၃၄၅ နှင့် အမြင့်ဆုံး လစာမှာ US$ ၁,၉၀၀ ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သော လျှပ်စစ်ဓါတ်အားကို ဌာနသို့ ၁၀၀% ရောင်းချမည် ဖြစ်ပြီး ထုတ်လုပ်မှုမှာ ပုံမှန်နှစ် (ဆဌမနှစ်)တွင် အနည်းဆုံး ကီလိုဝပ်နာရီ သန်းပေါင်း ၇၁၇,၃၅၃ နှင့် ရောင်းချမည့် ဈေးနှုန်းမှာ တစ်ကီလိုဝပ်နာရီလျှင် US$ ၀.၀၃၄ ဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | US$ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၂၄.၃၂ |
| (ခ) | အသုံးစရိတ် | - | ၂၀.၄၄ |
| (ဂ) | အသားတင်အမြတ် | - | ၂.၈၈ |

၁၂။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၉၆ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၁.၂၂ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၈ နှစ် ၁၀ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၀% ဖြစ်ပါသည်။

၁၃။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **နောက်ဆက်တွဲ-က**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း။

(၂) အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၅)ဦး အလုပ် အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း။

(၃) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ သာကေတဓာတ်အားပေးစက်ရုံဝင်းအတွင်း မြေ ၃၉,၀၀၀ စတုရန်းမီတာအား (1$/$m^2$/year)နှုန်း (၁)နှစ်လျှင်(US$-39000) နှုန်း ဖြင့် နှစ် (၃၀) ငှားရမ်းဆောင်ရွက်ခြင်းအပေါ် နေပြည်တော် လျှပ်စစ် စွမ်းအား ဝန်ကြီးဌာနနှင့် ဖက်စပ်ဆောင်ရွက်ထားခြင်းအား ကန့်ကွက်ရန်မရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် Retention Pond ဖြစ်နေသော်လည်း သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားရာတွင် ရေထိန်းကန်အားမြေဖို့၍ အဆောက်အဦ ဆောက်လုပ်ရာ၌ မိုးတွင်းရေ ဝင်ရောက်စုနေမည့်ရေများကို စနစ်တကျရေစီးဆင်းစနစ်ပြုလုပ်ပြီး ငမိုးရိပ်ချောင်းအတွင်းသို့ စီးထွက်နိုင်အောင် အလေးထားဆောင်ရွက်ရန်လိုသကဲ့သို့ ငမိုးရိပ်ချောင်းဒီရေတက်လျှင် Back Flow ပြန်မဝင်လာအောင်လည်း အလေးထားစီမံသင့်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန**

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ Environmental, Social and Health Impact Assessment - ESHIA အစီရင်ခံစာအား ရေးဆွဲဆောင်ရွက်ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ စိစစ်ပြီးဖြစ်ပါသည်။

(ဂ) **မြန်မာနိုင်ငံတော် ဗဟိုဘဏ်** **နောက်ဆက်တွဲ-ခ**

(၁) ရင်းနှီးမြှုပ်နှံမှု စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၂၅.၆၇၂ သန်းတွင် ချေးငွေ အမေရိကန်ဒေါ်လာ ၈၉.၂၈ သန်းရှိ၍ ရှယ်ယာရှင်များ၏ ထည့်ဝင်မှုအမေရိကန်ဒေါ်လာ ၃၇.၇၀ သန်း ပါဝင်မည်ဖြစ်ရာ Debt to Equity Ratio မှာ 2.33:1 ရှိ၍ လက်ခံနိုင်ပါသည်။ သို့ရာတွင် ချေးငွေပမာဏကို Facility Agreement (မူကြမ်း)၏ မျက်နှာဖုံးတွင်သာ ဖော်ပြ၍ စာချုပ်ထဲတွင် ဖော်ပြထားခြင်း မရှိပါကြောင်း။

(၂) ချေးငွေစာချုပ် အပိုဒ် 8 တွင် Interest Rate မှာ ၇.၅% (p.a) နှင့် Default Interest Rate မှာ ပုံမှန်အတိုးနှုန်းအပေါ် ၂% (p.a) ထပ်ဆောင်း တွက်ချက်မည်ဟု ဖော်ပြထားပြီး အပိုဒ် 8.4 Notification of rates of interest တွင် ယခုချေးငွေစာချုပ်၏ ချေးငွေအတိုးနှုန်းကို Lender မှ အကြောင်းကြားမည်ဖြစ်ကြောင်း ထပ်မံဖော်ပြထားသဖြင့် ချေးငွေအပေါ် အတိုးနှုန်းကို အကြောင်းကြားသည့်အခါ ပြောင်းလဲတောင်းခံနိုင်သည့် သဘောတွေ့ရှိရပါကြောင်း၊ အတိုးနှုန်း ၇.၅% (p.a) မှာ များသည့်အပြင် အတိုးပေးရာတွင် Withholding tax အားငွေချေးသူက ကျခံရမည်ဖြစ်၍ အတိုးစရိတ်များလွန်းပါသည်၊ သို့ဖြစ်ပါ၍ အတိုးနှုန်းအား ပြန်လည်ညှိနှိုင်းသင့်ပါကြောင်း။

(၃) ချေးငွေစာချုပ် အပိုဒ် 11 Fees တွင် Borrower မှ Lender သို့ သဘောတူထားသည့် Fee Letter ပါအတိုင်း Arrangement fee ပေးရန်ဟုသာ ဖော်ပြထား၍ ပမာဏအတိအကျ သတ်မှတ်ထားခြင်းမရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။**(ကုမ္ပဏီသို့ ပြင်ဆင်ရန် အကြောင်းကြားပြီး ဖြစ်ပါသည်။)**

၁၄။ နိုင်ငံခြားငွေအထောက်အထားအဖြစ် U-Energy Thaketa Power Company Limited အမည်ဖြင့် Industrial and Commercial Bank of China (Yangon Branch) တွင် ၂၀၁၆ ခုနှစ်၊ မေလ ၆ ရက်နေ့စွဲဖြင့် ငွေလက်ကျန် အမေရိကန်ဒေါ်လာ ၇၅,၀၅၀ နှင့် ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၁၈ ရက်နေ့စွဲဖြင့် ငွေလက်ကျန် အမေရိကန်ဒေါ်လာ ၁၂၄,၉၅၀ ရှိကြောင်း တင်ပြထားပါသည်။

၁၅။ U-Energy Thaketa Power Company Limited မှ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်မှုအစီအစဉ်၊ လုပ်ငန်းခွင်လုံခြုံရေးနှင့်မီးဘေး အန္တရာယ်ကာကွယ်ရေးအစီအစဉ်များအား နှင့် Corporate Social Responsibility အဖြစ်လုပ်ငန်း၏နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၁ % ကို သုံးစွဲမည်ဖြစ်ပါကြောင်း ပူးတွဲတင်ပြထားပါသည်။

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၇။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ၅၀ မဂ္ဂါဝပ် သဘာဝ ဓာတ်ငွေ့သုံး ဓာတ်အားပေး စက်ရုံစီမံကိန်းကို ရန်ကုန်မြို့၊ ရွာမ ဓာတ်အားပေးစက်ရုံဝင်းအတွင်း ဆောင်ရွက်ရန် UPP Power (Myanmar) Ltd. အားနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုမိန့်အမှတ် ၆၃၁/၂၀၁၃(၁၈-၁၀-၂၀၁၃) ဖြင့် ခွင့်ပြုခဲ့ပါသည်။

(ခ) ၅၀မဂ္ဂါဝပ် သဘာဝ ဓာတ်ငွေ့သုံးဓာတ်အားပေး စက်ရုံစီမံကိန်းကို ရန်ကုန်မြို့၊ သာကေတ ဓာတ်အားပေး စက်ရုံဝင်းအတွင်း ဆောင်ရွက်ရန် Max Power Thaketa) Co., Ltd. အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် အမှတ် ၇၅၇/၂၀၁၄ (၁-၈-၂၀၁၄) ဖြင့် ခွင့်ပြုခဲ့ပါသည်။

(ဂ) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအနေဖြင့် တစ်ရက်လျှင် သဘာဝဓာတ်ငွေ့ကုဗပေ ၂၀ သန်း ထောက်ပံ့ပေးမည်ဖြစ်ရာ ပထမအဆင့်တွင် ၁၀၆ မဂ္ဂါဝပ် ဓာတ်အားပေး စက်ရုံကို တည်ဆောက်ပြီး သဘာဝဓာတ်ငွေ့ထပ်မံရရှိမှုပေါ် မူတည်၍ ဒုတိယအဆင့် ၃၈၀ မဂ္ဂါဝပ်၊ စုစုပေါင်း စက်တပ်ဆင်အင်အား ၄၈၆ မဂ္ဂါဝပ်ရှိသော သာကေတ သဘာဝဓါတ်ငွေ့နှင့် စွန့်ပစ်အပူသုံးဓာတ် အားပေးစက်ရုံ စီမံကိန်းအား အကျိုးတူ ပူးပေါင်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဃ) စက်ရုံငှားရမ်းမည့် သက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးပြီး တစ်နှစ် အတွင်း အဆိုပြုလုပ်ငန်း ပထမအဆင့်၏ စီးပွားဖြစ်စတင်သည့် နေ့မှစ၍ (၃၀)နှစ်ဖြစ်ပြီး နှစ်စဉ်ငှားရမ်းခအား စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ သတ်မှတ်မည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ BOT စနစ်ဖြင့် ၁၀၆ မဂ္ဂါဝပ် သဘာဝ ဓာတ်ငွေ့နှင့် စွန့်ပစ်အပူသုံးဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း (ပထမအဆင့်)အတွက်ဖြစ်ကြောင်းတွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနနှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော UREC Energy

International Limited (UREC-EI) တို့သည် မြန်မာနိုင်ငံတွင် U Energy Thaketa Power Co., Ltd. ဖွဲ့စည်းတည်ထောင်ပြီး လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေး ဦးစီးဌာနပိုင် သာကေတ ဓာတ်အားပေး စက်ရုံဝင်းအတွင်းရှိ မြေ ၄၀,၉၇၅.၃၅၃ စတုရန်းမီတာတွင် BOT စနစ်ဖြင့် ၁၀၆ မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့နှင့်စွန့်ပစ်အပူသုံးဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

(နောက်ဆက်တွဲ - က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ ၁၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄. ၁၂. ၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၄/ န-၄၄/၂၀၁၅(၉၄၈)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော UREC Energy International Limited (UREC-E1)မှ မြန်မာနိုင်ငံတွင် U Energy Thaketa Power Co., Ltd. တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ သာကေတ ဓါတ်အားပေးစက်ရုံဝင်းအတွင်း မြေ (၃၉၀၀၀ စတုရန်းမီတာ)တွင် သဘာဝဓါတ်ငွေ့နှင့် စွန့်ပစ်အပူသုံး ဓါတ်အားပေးစက်ရုံစီမံကိန်းအား BOT စနစ်အခြေခံဖြင့်တည်ဆောက်ပြီး လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၂၅)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ သာကေတဓါတ်အားပေးစက်ရုံဝင်းအတွင်း မြေ (၃၉၀၀၀ စတုရန်းမီတာ) အား (1 $/m²/year)နှုန်း (၁)နှစ်လျှင်(USD-39000 $)နှုန်းဖြင့် နှစ် (၃၀)ငှားရမ်းဆောင်ရွက်ခြင်း အပေါ် နေပြည်တော်၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် ဖက်စပ်ဆောင်ရွက်ထားခြင်းအား ကန့်ကွက်ရန်မရှိပါ။

D/2016/Catinet/1.,(21)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာသည် Retention Pond ဖြစ်နေသော်လည်း သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားရာတွင် ရေထိန်းကန်အားမြေဖို့၍ အဆောက်အဦဆောက်လုပ်ရာတွင် မိုးတွင်းရေဝင်ရောက်စုနေမည့်ရေများကို စနစ်တကျရေစီးဆင်းစနစ်ပြုလုပ်ပြီး ငမိုးရိပ်ချောင်းအတွင်းသို့စီးထွက်နိုင်အောင် အလေးထားဆောင်ရွက်ရန်လိုသကဲ့သို့ ငမိုးရိပ်ချောင်းဒီရေတက်လျှင် Back Flow ပြန်မဝင်လာအောင်လည်း အလေးထားစီမံသင့်ပါကြောင်း အကြံပြုပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၇. ၁. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၇)အရ U Energy Thaketa Power Co., Ltd.၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သာကေတမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
U Energy Thaketa Power Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/1,(22)

(နောက်ဆက်တွဲ - ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

M4 - 849
23.8.16

စာအမှတ်၊ မဗဘ/ ဘဏ်စီစစ်/ ၄(၂၀၅/၂၀၁၆)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၇-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၅(လ)/န-၀၁၂/၂၀၁၆(၄၀၂)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ သာကေတဓာတ်အားပေးစက်ရုံဝင်းအတွင်း သဘာဝဓာတ်ငွေ့နှင့် စွန့်ပစ်အပူသုံး ဓာတ်အားပေး စက်ရုံစီမံကိန်း ဆောင်ရွက်မည့် U Energy Thaketa Power Co., Ltd သည် လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန် အတွက် UREC Energy International Limited ထံမှ ချေးငွေ အမေရိကန်ဒေါ်လာ ၈၉.၂၈ သန်း ရယူလိုခြင်းအပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက် တောင်းခံလာခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၂၅.၆၇၂ သန်းတွင် ချေးငွေ အမေရိကန်ဒေါ်လာ ၈၉.၂၈ သန်းရှိ၍ ရှယ်ယာရှင်များ၏ ထည့်ဝင်မှု အမေရိကန် ဒေါ်လာ ၃၇.၇၀ သန်း ပါဝင်မည်ဖြစ်ရာ Debt to Equity Ratio မှာ 2.33:1 ရှိ၍ လက်ခံနိုင်ပါသည်။ သို့ရာတွင် ချေးငွေပမာဏကို Facility Agreement (မူကြမ်း) ၏ မျက်နှာဖုံးတွင်သာ ဖော်ပြ၍ စာချုပ်ထဲတွင် ဖော်ပြထားခြင်းမရှိပါ၊

(ခ) ချေးငွေစာချုပ် အပိုဒ် 8 တွင် Interest Rate မှာ ၇.၅% (p.a) နှင့် Default Interest Rate မှာ ပုံမှန်အတိုးနှုန်းအပေါ် ၂% (p.a) ထပ်ဆောင်းတွက်ချက်မည်ဟု ဖော်ပြထား ပြီး အပိုဒ် 8.4 Notification of rates of interest တွင် ယခုချေးငွေစာချုပ်၏ ချေးငွေ အတိုးနှုန်းကို Lender မှ အကြောင်းကြားမည် ဖြစ်ကြောင်း ထပ်မံ ဖော်ပြထား သဖြင့် ချေးငွေပေါ် အတိုးနှုန်းကို အကြောင်းကြားသည့်အခါ ပြောင်းလဲတောင်းခံနိုင် သည့်သဘော တွေ့ရှိရပါသည်၊ အတိုးနှုန်း ၇.၅% (p.a) မှာ များသည့်အပြင် အတိုးပေး

ရာတွင် Withholding tax အား ငွေချေးသူက ကျခံရမည်ဖြစ်၍ အတိုးစရိတ်များလွန်းပါသည်၊ သို့ဖြစ်၍ အတိုးနှုန်းအား ပြန်လည်ညှိနှိုင်းသင့်ပါသည်၊

(ဂ) ချေးငွေစာချုပ် အပိုဒ် 11 Fees တွင် Borrower မှ Lender သို့ သဘောတူထားသည့် Fee Letter ပါအတိုင်း Arrangement fee ပေးရန်ဟုသာ ဖော်ပြထား၍ ပမာဏ အတိအကျ သတ်မှတ်ထားခြင်းမရှိပါ။

၁၇/၈/၂၀၁၆

(ခင်စောဦး)

ဒုတိယညွှန်ကြားရေးမှူး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ်၊ လျှပ်စစ်-၂ (မူဝါဒ-UREC) (၁၂၃၀ )/ ၂၀၁၆

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၇ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် U Energy Thaketa Power Co., Ltd မှလျှပ်စစ်စွမ်းအားဝန်ကြီးဌာနပိုင်သာကေတဓာတ်အားပေးစက်ရုံဝင်းအတွင်း BOT စနစ်ဖြင့် သဘာဝဓာတ်ငွေ့သုံးနှင့် စွန့်ပစ်အပူသုံးဓာတ်အား ပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း အဆိုပြု တင်ပြခြင်းကိစ္စ**

ရည်ညွှန်းစာ ။ (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ( ၂၄-၁၂-၂၀၁၅) ရက်စွဲပါစာအမှတ်၊ လျှပ်စစ်-၂ (မူဝါဒ-UREC) (၁၇၂၂၅ )/ ၂၀၁၅

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂-၁-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ရက-၄/ န - ၀၄၄/ ၂၀၁၆ (၀၂၇)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော UREC Energy International Ltd (UREC-EI) မှ မြန်မာနိုင်ငံတွင် U Energy Thaketa Power Co., Ltd တည်ထောင်ပြီး လျှပ်စစ်စွမ်းအားဝန်ကြီးဌာနပိုင် သာကေတဓာတ်အားပေးစက်ရုံဝင်းအတွင်း မြေ ၉၃၀၀၀ စတုရန်းမီတာကို BOT စနစ်ဖြင့်ငှားရမ်း၍ သဘာဝဓာတ်ငွေ့သုံးနှင့် စွန့်ပစ်အပူသုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုစိစစ်ရေးအဖွဲ့၏ ၄၅/၂၀၁၅ အစည်းအဝေးသို့ တင်ပြရာ ယင်းအစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြန်လည်တင်ပြပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အကြောင်းကြားလာသဖြင့် ရည်ညွှန်း(၁)ပါစာဖြင့် ပြန်လည်တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လိုအပ်သည့်အချက်များအား ထပ်မံဖြည့်စွက် ပြင်ဆင်ပေးပါရန် ရည်ညွှန်း(၂)ပါစာဖြင့် ထပ်မံအကြောင်းကြားလာပါသဖြင့် အောက်ဖော်ပြပါ (က)၊ (ခ)၊ (ဂ)၊ (ဃ) နှင့်(င) တို့အားလည်းကောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ

ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီပြင်ဆင်ထားသော (၆)ပါ အစီရင်ခံစာအားလည်းကောင်း ပူးတွဲလျက် ပေးပို့တင်ပြအပ်ပါသည်-

(က) Phase I ၏ Business Plan

(ခ) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တောင်းခံရယူပြင်ဆင်ထားသော မြေငှားစာချုပ် (မူကြမ်း)

(ဂ) မြေငှားစာချုပ်၏ နောက်ဆက်တွဲအဖြစ် မြေပုံပိုင်းခြားခြင်း အထောက်အထား (မိတ္တူ)

(ဃ) အဆိုပြုလုပ်ငန်းအမျိုးအစား

(င) ဝန်ထမ်းအင်အားစာရင်း

(စ) Environmental, Social & Health Impact Assessment for Yangon Thaketa Combined Cycle Power Plant at Thaketa Township

ပြည်ထောင်စုဝန်ကြီး (   )

( ထိန်လွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ

[illegible]

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

မြေစီမံခန့်ခွဲမှုဌာန

# မြေငှားဂရန်စာချုပ်

သာကေတ မြို့နယ်

[illegible]

[illegible]

| | | | |
|---|---|---|---|
| အမည် | ...................... | မြို့နယ် | ......သာကေတ...... |
| နိုင်ငံသား/အမျိုးသား | ...................... | မြေတိုင်းရပ်ကွက် | ..........၆/၁၀........ |
| မှတ်ပုံတင်အမှတ် | ...................... | လူနေရပ်ကွက်အမှတ် | ..........၆/၁၀........ |
| မြေငှားစာချုပ်အမှတ် | [illegible] | မြေကွက်အမှတ် | ...................... |
| အမှုတွဲအမှတ်/နေ့စွဲ | ...................... | မြေကွက်လိပ်စာ | ......သာကေတ.. |

[illegible]

၃။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ဝန်ခံချက်ပြုလုပ်သည် -

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်သည့်နေ့ရက်တွင် သတ်မှတ်သည့်နည်းလမ်းအတိုင်း ပေးဆောင်ရန်နှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း၊ အဆိုပါ နှစ်ပေါင်း(၆၀)ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ၊ စည်းကြပ်လတ္တံ့ဖြစ်သော အခွန်အတုပ်အားလုံးကို ပေးဆောင်ရမည်။

(ခ) ဤစာချုပ် ချုပ်ဆိုသည့်နေ့မှ (၆)လအတွင်း စတင်ဆောက်လုပ်၍ အဆိုပါမြေကွက်ပေါ်တွင် ကောင်းမွန်ခိုင်ခံ့သောလူနေအိမ်ကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အအုံ)မှ သတ်မှတ်ခွင့်ပြုသည့်ပုံစံအတိုင်း စည်ပင်သာယာတရားဥပဒေနှင့်အညီ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ် စသည်တို့ကို အဆိုပါ နှစ်ပေါင်း(၆၀)ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက် တည်ရှိသောရပ်ကွက်၌ သက်ဆိုင်ရာ ဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်များနှင့် ရေပိုက်များချထားလျှင် ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့် တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ် ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့်ဆက်သွယ်ရန်။

(ဃ) အဆိုပါမြေကွက်ပေါ်၌ အဆောက်အအုံများ တည်ဆောက်ရာတွင် ဒေသန္တရအာဏာပိုင် (သို့မဟုတ်) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အအုံ)၏ ကြိုတင်ခွင့်ပြုချက် ရယူရန်။

(င) အငှားချထားသူ၏စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း အဆိုပါမြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတပါးအခြားကိစ္စအတွက် အသုံးမပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့်လူနေအိမ်ကို၊ လူနေအိမ်အဖြစ်မှတပါး အခြားနည်းအသုံးမပြုရန်။

(စ) အငှားချထားသူ၏စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိပဲ စာချုပ်ပါမြေကိုခွဲခြမ်းခြင်း မပြုရသည့်အပြင် ၎င်းမြေ၏တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများ မပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့် စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံသို့ဖြစ်စေ၊ နှစ်ပေါင်းခြောက်ဆယ် (၆၀)ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူး၏အမိန့်အရ ဆောင်ရွက်သူများအား နေ့ပိုင်းသင့်လျော်သည့်အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်း (၆၀) အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါ မြေကွက်တည်ရှိသည့်အဆောက်အအုံနှင့် ယင်းအဆောက်အအုံတွင် ပါဝင်တည်ဆောက်ထားသော ပစ္စည်းများ မပါဝင်စေပဲ အဆိုပါ မြေကွက်ကို အငှားချထားသူအား အေးအေးဆေးဆေးပြန်လည်ပေးအပ်ရန်၊ သို့ရာတွင် အငှားချထားသူက အပိုဒ်(၂)အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရုပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသည့် အဆောက်အအုံနှင့် ယင်း၏အဆောက်အအုံတွင် ပါဝင်တည်ဆောက်ထားသော ပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးအေးဆေးဆေးပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ပေါ်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉ .၅၃ . ခုနှစ် အတွင်းတွင်ဖြစ်စေ၊ ထိုနောက် အချိန်ကာလကွင်ဖြစ်စေ၊ ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန်ဖြစ်သည်။

၂။ အဆိုပါမြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက်မြေငှားခကို (သို့တည်းမဟုတ်) ၎င်း၏အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလဦးပိုင်းတွင် မပေးဆောင်သဖြင့်မြေငှားခ မပြေကျန်ရှိနေလျှင်၊ သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် ပျက်ကွက်လျှင်၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူးသည် အဆိုပါမြေငှားခကိုရယူရန် ချက်ချင်းအမှုဖွင့်နိုင်သည်၊ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံချက်ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊ အဆိုပါမြေကွက် ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ၊ စွန့်လွှတ်ခဲ့စေကာမူ ဤစာချုပ်ကို ပယ်ဖျက်၍ အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများကို အဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်းပဋိညာဉ်ခံချက်ပြုလုပ်သည် --

(က) အပိုဒ်(၂)အရ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိသင့်လျော်သည်ဟု ထင်မြင်သည့်နည်းလမ်းအတိုင်း အငှားဂရန်ရသူ၏ နောက်ဆုံးသိရှိရသော လိပ်စာတပ်ပြီး မှတ်ပုံတင်ပြုလုပ်၍စာပို့တိုက်မှ ပေးပို့နိုင်သည်၊ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်အဆောက်အအုံ စသည့်ပစ္စည်းများ၏ ထင်ရှား၍ လူအများ မြင်သာသောနေရာတွင် ကပ်ထားနိုင်သည်၊ အဆိုပါနို့တစ်စာကို ပြဆိုသည့်နည်းလမ်းအတိုင်း ပေးပို့ခြင်း၊ ကပ်ထားခြင်းပြုလုပ်ပြီး နောက်ရက်ပေါင်း (၆၀)အတွင်းအငှားစာချုပ်ရသူက အဆိုပါဌာနမှူးအား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ်အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည်အငှားချထားခြင်းနှင့် စပ်လျဉ်း၍အငှားချထားသူက ကုန်ကျသော စရိတ်အားလုံးနှင့်တစ်ကွ အဆိုပါဌာနမှူးသို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက်တစ်ခုခုနှင့်စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါဌာနမှူးကြေနပ်လောက်အောင် ဆောင်ရွက်လျှင်သော်လည်းကောင်း၊ အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်းနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား၏ ကျန်ရှိသေးသောကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌ တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်၊ သို့ရာတွင် မီးမကြောင့်သော်လည်းကောင်း၊ အခြားအကြောင်းတစ်ခုခုကြောင့်သော်လည်းကောင်း၊ ပျက်စီးရသည့်အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူသည့်အခါ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြေစီမံခန့်ခွဲမှုဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်စီး ပြုလုပ်မှုကြောင့်ဆုံးရှုံးပျက်စီးခြင်းအတွက်မှတပါး အဆိုပါမြေကွက်ပေါ်တွင်ဖြစ်စေ၊ အထဲတွင်ဖြစ်စေ၊ တည်ရှိနေသောအဆောက်အအုံနှင့်

မြေငှားဂရန်မှာချုပ်

နေ့စွဲ၊ ၁၉၉၃ ခုနှစ်၊ ..နိုဝင်ဘာ........ လ၊ ..၂၂.. ရက်

ရကစ/မြေရာ(သကတ/ /၉၃)

မြေငှားစာချုပ်အမှတ် ...သကထ/၄၇၁၃၆/၁၁၀၃...၉၃ အမှုတွဲအမှတ် ..........................

ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြေစီမံခန့်ခွဲမှုဌာန (နောက်တွင် "အငှားချထားသူ"ဟု ရည်ညွှန်းသည်၊ "အငှားချထားသူ"ဆိုသည့် စကားရပ်တွင်၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြေစီမံခန့်ခွဲမှုဌာနဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်းပါဝင်သည်၊)နှင့်

.......သာကေတ.......... မြို့နေ ဦး ........................... ၏ သား/သမီးဖြစ်သော ဦး/ဒေါ် ...[illegible]... နိုင်ငံသား/အမျိုးသား မှတ်ပုံတင်အမှတ် ........................

(နောက်တွင် "အငှားစာချုပ်ရသူ"ဟု ရည်ညွှန်းသည်၊)တို့ ၁၃၅၅ ခုနှစ်၊ .....တန်ဆောင်မုန်း...... လဆန်း/လပြည့်ကျော် ..၉.. ရက်နေ့၊ ၁၉၉၃ ခုနှစ်၊ ...နိုဝင်ဘာ...... လ ၂၂.. ရက်နေ့တွင် အောက်ပါအတိုင်း မြေငှားစာချုပ် ချုပ်ဆိုကြသည်။

အငှားစာချုပ်ရသူက နောက်တွင် သတ်မှတ်ထားသည့်မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့်လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကိုပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကို ထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက်သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တစ်ကွ အငှားချထားသူက အငှားစာချုပ်ရသူအား ဤစာချုပ်ဖြင့် အငှားချထားသည်၊ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓါတ်သတ္တုပစ္စည်းများ၊ ကျောက်မျက်ရတနာ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်မိုင်းစသည်တို့သည်၊ ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ၊ ထိုသို့ရှာဖွေ တူးဖေါ်သယ်ဆောင်ရာ၌၊ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နှောက်ယှက်ဖျက်ဆီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအား သင့်လျော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်၊ ထိုလျော်ကြေးနှင့်စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူးက ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ် ချုပ်ဆိုသည့် ..၂၂.၁၁.၉၃...... နေ့မှစ၍ နှစ်ပေါင်း ...၆၀........ ကာလအပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါစာချုပ်ကို အငှားချထားသည်။

နှစ်ပေါင်း(၆၀) မြေငှားစာချုပ်ကာလအပိုင်းအခြားတွင်၊ ၂၀၀၈. ခုနှစ် နိုဝင်ဘာ......... လ ၂၁ ရက်နေ့၌ ကုန်ဆုံးသည့် ပထမ(၁၅)နှစ်အတွင်းတွင် သုံးလပတ်အတွက် မြေငှားရမ်းခငွေကျပ် .............. ပြား .....(ကျပ် ...................................... ပြား တိတိ)ကို ဇန်နဝါရီလ၊ ဧပြီလ၊ ဇူလိုင်လနှင့် အောက်တိုဘာလများ၏ လဆန်း(၁)ရက်နေ့များတွင် ကြိုတင်ပေးဆောင်ရမည်၊ အဆိုပါနှစ်ပေါင်း(၆၀)ကာလ အပိုင်းအခြား၏ ဒုတိယ၊ တတိယနှင့် စတုတ္ထ(၁၅)နှစ်စီအတွက် အပိုဒ်(၃)တွင် ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။

အခြားပစ္စည်းများ၏တန်ဘိုး ယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း သို့တည်းမဟုတ် ပျက်စီးယိုယွင်းခြင်းအတွက် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြေစီမံခန့်ခွဲမှုဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ်(၂)အရ ဤစာချုပ်ကို ပယ်ဖျက်ပြီး မဟုတ်လျှင်သော်လည်းကောင်း၊ အငှားစာချုပ်ရသူက နှစ်ပေါင်း ခြောက်ဆယ်ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကို ပြေလည်အောင်ပေးဆောင်၍ ဤစာချုပ်ပါ ဒိမ်ပြုလုပ်သည့် ပဋိညာဉ်ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူသည် အဆိုပါ မြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသော အဆောက်အအုံများကို အဆောက်အအုံများနှင့် အမြဲတွယ်ကပ် ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန်မီ ခြောက်လအတွင်း ဖျက်သိမ်း သယ်ယူခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့သယ်ယူခြင်းကြောင့် အဆိုပါမြေကွက် ပျက်စီးယိုယွင်းခဲ့လျှင် ထိုမြေကွက်ကို မူလအခြေအနေအတိုင်း ရှိအောင်ပြုပြင်ပေးရန်။

(ဂ) ( ၂၀၀၈ ) ခုနှစ် ဖေဖော်ဝါရီ လ ၂၁ ရက်နေ့မှစ၍ ပထမ တစ်ဆယ့်ငါးနှစ် ကုန်ဆုံးသောအခါ ဒုတိယတစ်ဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ ဒုတိယ တစ်ဆယ့်ငါးနှစ်ကုန်ဆုံးသောအခါ တတိယ တစ်ဆယ့်ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ တတိယ တစ်ဆယ့်ငါးနှစ်ကုန်ဆုံးသော အခါ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန် အကယ်၍ အထက်ပါနည်းဥပဒေအတိုင်း မြေငှားခကို ပြန် လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင် ပြဋ္ဌာန်းထားသည့် နည်းဥပဒေအတိုင်း မြေငှားခကို ပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲ သုံးလပါတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါ အခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက် မည်သို့ပင် ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆို သည့်နေ့မှစ၍ ပထမနှစ်ပေါင်း သုံးဆယ်အတွင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော မြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့်လည်းကောင်း၊ ပြုလုပ်ထားသော ပဋိညာဉ်ချက်များကို မပျက် မကွက် လိုက်နာဆောင်ရွက်ခဲ့သောကြောင့်လည်းကောင်း၊ သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော သုံးလပါတ် မြေငှားခဖြင့်၊ နောက်ထပ် နှစ်ပေါင်းသုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်းမြေငှား စာချုပ်အသစ်ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံး ခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့်၊ အကြောင်းကြားရမည်၊ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကို ပေးအပ်လျှင် ထိုအကြောင်းကြားစာ ရရှိသည့်နေ့မှ ခြောက်လအတွင်း နောက်နှစ်ပေါင်း သုံးဆယ်အတွက် ပထမ မြေငှားစာချုပ်ပါ ပဋိညာဉ်ချက်များနှင့် ဖြစ်နိုင်သမျှတူညီသည့် ပဋိညာဉ်ချက်များပါရှိသည့် မြေငှားစာချုပ်အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူက ထုတ်ပေးရန် အကယ်၍ မြေငှားခကို သတ်မှတ်ခြင်း မရှိသေးလျှင် ပထမ မြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပါတ်မြေငှားခကို အငှားစာချုပ်ရသူက ပေးဆောင်ရန်၊

ဤစာချုပ် ပါစကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ရန်ကုန်မြို့ တော်စည်ပင်သာယာရေးကော်မတီ၊ မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူးနှင့် ဒုတိယဌာနမှူးတို့ရှေ့တွင် ဤကော်မတီတံဆိပ်ကို ခပ်နှိပ်၍ အဆိုပါဌာနမှူးနှင့် အဆိုပါ [illegible] သည့် ဤစာချုပ်ကို အထက်၌ ဖော်ပြခဲ့သည့် နေ့ရက်တွင် လက်မှတ် ရေးထိုးကြပါသည်။

# ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

## မြေစီမံခန့်ခွဲမှုဌာန

တံဆိပ်

တံဆိပ်ကိုမြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူးနှင့် ဒုတိယဌာနမှူးတို့ ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါဌာနမှူးနှင့် ဒုတိယဌာနမှူးတို့ လက်မှတ်ရေးထိုးသည်။

..........................ဌာနမှူး....

အသိသက်သေ

..........................

ဌာနခွဲမှူး

..........................

ဒုတိယဌာနမှူး

အငှားစာချုပ်ရသူ ..................... က လက်မှတ်ရေးထိုးသည်။

အသိသက်သေ

၁။ ______________________

၂။ ______________________

အထက်တွင် ရည်ညွှန်းထားသည့်အတိုင်း ခွင့်ပြုပြီး မြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် ........................

မြေတိုင်းရပ်ကွက်အမှတ် ..........၉/၁၈......

ရန်ကုန်မြို့ ........................ မြို့နယ် အတွင်းရှိ ........................ တန်းစား၊ မြေကွက်အမှတ် ........................ ဖြစ်သည့် ပူးတွဲပါ မြေပုံ၌ မှင်နီဖြင့်ပြထားသောအလျား ........ပေ၊ အနံ ........ ပေခန့်ရှိသောအလားအလာ

အရှေ့လားသော် ........................

အနောက်လားသော် ........................

တောင်လားသော် ........................

မြောက်လားသော် ........................

အတွင်းရှိ မြေအားလုံးဧရိယာ ........................ ဧက၊ (စတုရန်းပေ ........................ )

## ပြည်ထောင်စုမြန်မာနိုင်ငံတော်
## ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ



| |
|---|
| ၁၉၉၄ / ၉၅ ခုနှစ်သုံး မြေပုံမှ ရေးကူးပေးသည့် မှန်ကန်ကြောင်းသက်သေခံသည့် မြေငှားဂရန်မြေပုံ |
| အမည်ပေါက် [illegible] |
| မြေတိုင်းရပ်ကွက်အမှတ် ၉/၂၀ |
| လူနေရပ်ကွက်အမှတ် ၉/၂၀ |
| မြေကွက်အမှတ် |
| မြေအမျိုးအစား နှစ်(၆၀) မြေငှားဂရန်စာချုပ် |
| အလျား ...... X အနံ ...... ဧရိယာ |
| မြို့နယ် သာကေတ |
| စကေး ၁" = ၃၀၀' |
| ထုတ်ပေးသည့်အမှုတွဲအမှတ် |
| [signature] မြေတိုင်း ( ၁ ) မြို့နယ်စီမံခန့်ခွဲမှုစာရင်း နှင့် [illegible] |
| [signature] (၁) မြို့နယ်မြေစီမံခန့်ခွဲမှုစာရင်း နှင့် [illegible] |
| [signature] |

[signature]
မြို့နယ်မြေ [illegible] ခန့်ခွဲမှုစာရင်း နှင့်
[illegible]

၁၉ ၉၄ / ၉၅ ခုနှစ်သုံး မြေပုံ/မြို့မြေစာရင်းမှ ရေးကူးသော ကောက်နုတ်ချက်မိတ္တူမြေပုံ/မြေရာဇဝင်ဖြစ်၍ တိကျမှန်ကန်ကြောင်း ထောက်ခံပါသည်။ (မြေစီမံခန့်ခွဲမှုဌာန)

LIMITED အမည်ဖြင့် ကုမ္ပဏီမှတ်ပုံတင်၍ ဆက်လက်လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ပါကြောင်း နှင့် ဖက်စပ်သဘောတူစာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးခဲ့သည့် တရုတ်ပြည်သူ့သမ္မတနိုင်ငံ UREC Energy International Limited (UREC-EI) ၏ Certificate of Incorporation လက်မှတ်အား **နောက်ဆက်တွဲ(ခ)** ဖြင့် တင်ပြအပ်ပါသည်။

၈။ အဆိုပါစီမံကိန်းကို လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာနနှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံ UREC Energy International Limited (UREC-EI) တို့၏ ဖက်စပ်ရင်းနှီးမြှုပ်နှံမှုအဖြစ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်အား UREC-EI မှ တင်ပြလာပါသဖြင့် U ENERGY THAKETA POWER COMPANY LIMITED က ဆောင်ရွက်မည့် အထက်ပါစီမံကိန်းနှင့် ပတ်သက်၍ လိုက်လျောခွင့်၊ သက်သာခွင့်များ၊ သွင်းကုန်ခွန်၊ အကောက်ခွန်၊ ဝင်ငွေခွန် နှင့် ကုန်သွယ်ခွန် ကင်းလွတ်ခွင့်များ ကို ခွင့်ပြုပေးနိုင်ပါရန်လည်းကောင်း၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းအား လုပ်ငန်းခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန်လည်းကောင်း၊ ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်အား **နောက်ဆက်တွဲ(ဂ)** ဖြင့် ပူးတွဲပေးပို့၍ ထောက်ခံတင်ပြအပ်ပါသည်။

ခင်မောင်စိုး
ပြည်ထောင်စုဝန်ကြီး

